လျှို့ဝှက်

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Science and Tech International Myanmar University Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေး ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br><br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Science and Tech International Myanmar University Co., Ltd.<br>- ဒေါ်ခင်အေးဝင်း<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်-၆၀၅၊ မဟာသုခိတာလမ်းမကြီး၊ မြေကွက်အမှတ်-၃၄၄/B၊ မြေတိုင်းရပ်ကွက်- ၆ ဒီ ၁၄၊ ၁၅၊ ၁၆၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး နှင့်<br>- အမှတ်-မ(၂၃)၊ မြို့သစ်(၁)ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေး တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br><br>မြေ/အဆောက်အအုံ ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း /အသုံးပြုခွင့်သက်တမ်း | - ဒေါ်ခင်အေးဝင်း၊ ဦးအောင်ဝင်း<br>- ၀.၁၁၄ ဧက(၄၆၁.၃၄ စတုရန်းမီတာ) နှင့် ၀.၁၈၃၆ ဧက (၇၄၃.၀၀ စတုရန်းမီတာ)<br>- ကျပ် ၄,၇၂၅.၀၀ နှင့် ကျပ် ၄,၀၀၀.၀၀<br><br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၁၃,၅၂၄.၄၅ သန်း(အမေရိကန်ဒေါ်လာ ၄.၀၂ သန်း အပါအဝင်) |

| ထည့်ဝင်မည့်အမျိုးအစား | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၁,၀၀၀.၀၀ | - | ၁,၀၀၀.၀၀ |
| စက်ပစ္စည်းကိရိယာ | - | ၀.၁၃ | ၁၈၀.၇၇ |
| ပရိဘောဂပစ္စည်း | ၁၇၃.၁၀ | ၀.၅၆ | ၉၂၃.၁၉ |
| ရုံးသုံးပစ္စည်း | - | ၁.၆၁ | ၂,၁၇၀.၃၉ |
| မော်တော်ကား | ၁၆၆.၆၀ | ၁.၇၂ | ၂,၄၈၈.၆၀ |
| အဆောက်အဦ | ၆,၇၆၁.၅၀ | - | ၆,၇၆၁.၅၀ |
| စုစုပေါင်း | ၈,၁၀၁.၂၀ | ၄.၀၂ | ၁၃,၅၂၄.၄၅ |

လျှို့ဝှက်

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | စဉ် / အမျိုးအမည် / သင်တန်းကာလ / ကျောင်းသားဦးရေ / ဝန်ဆောင်ခနှုန်း (ကျပ်)<br>(က) Certificate / ၆ လ / ၂၅၀ / ၁၈၀,၀၀၀<br>(ခ) Diploma / ၁ နှစ် / ၂၀၀ / ၁၈၀,၀၀၀<br>(ဂ) Degree for Business / ၃.၅ နှစ် / ၁၂၀ / ၂၀,၄၀၀,၀၀၀<br>(ဃ) Degree for Engineering / ၄ နှစ် / ၉၀ / ၂၅,၀၀၀,၀၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၁၆၇ ဦး / -<br>**အမြင့်ဆုံးလစာ** ကျပ် ၂,၅၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀ |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် ရောဝတီဘဏ်တွင် Science and Tech International Myanmar University Co., Ltd. အမည်ဖြင့် ၂၃-၇-၂၀၁၈ ရက်စွဲတွင် ကျပ် ၃၆၈,၁၂၉,၄၈၁.၇၈ ရှိကြောင်း တင်ပြထားပါသည်။<br>- Science and Tech International Myanmar University Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ ထုတ်ပေးသည့် လုပ်ငန်းလိုင်စင်တို့ကို တင်ပြထားပါသည်။<br>- Science and Tech International Myanmar University Co., Ltd. သည် ဗြိတိန်နိုင်ငံ University of Bedfordshire နှင့် ပူးပေါင်း၍ စီးပွားရေး ဘာသာရပ်ဆိုင်ရာ ဘွဲ့ကြိုနှင့် ဘွဲ့လွန် သင်တန်းများ၊ အင်ဂျင်နီယာဘာသာရပ်ဆိုင်ရာ ဘွဲ့ကြိုနှင့် ဘွဲ့လွန် သင်တန်းများနှင့် ဘာသာစကားနှင့် ဆရာအတတ်သင်ဘာသာရပ် ဆိုင်ရာသင်တန်းများ ပို့ချလျက် ရှိကြောင်းနှင့် The Open University of Hong Kong (OUHK) နှင့် ပူးပေါင်း၍ Bachelor of Business Administration in Management (BBA in Management) ဘွဲ့ကြိုသင်တန်းကို ပို့ချလျက်ရှိကြောင်း တင်ပြထားပါသည်။<br>- အဆိုပါတက္ကသိုလ်၌ သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများအား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ကုမ္ပဏီသည် အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေ ပြင်ဆင်ချက် (၂၀၁၅) နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများအား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ကြို့ကုန်းအရှေ့ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၁၁၄ ဧက အတွက် ဒါရိုက်တာ ဒေါ်ခင်အေးဝင်း အမည်ဖြင့် နှစ် ၆၀ ငှါးရန် တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ကုမ္ပဏီသည် Science and Tech International Myanmar University Co., Ltd. အမည်ဖြင့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်နေပြီး ယခု နေရာသစ် (၂) နေရာတွင် တိုးချဲ့မည်ဖြစ်သဖြင့် အဆိုပြုလျှောက်ထားလွှာတင်ပြခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။<br>- အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံထားပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၁၅/ ၂၀၁၈(၂၇၄ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဩဂုတ် လ ၂၁ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Science and Tech International Myanmar University Co., Ltd. မှ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာတင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Science and Tech International Myanmar University Co., Ltd. မှ အမှတ်-၆၀၅၊ မဟာသုခိတာလမ်းမကြီး၊ မြေကွက်အမှတ်-၃၄၄/B၊ မြေတိုင်းရပ်ကွက်- ၆ ဒီ ၁၄၊ ၁၅၊ ၁၆၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးနှင့် အမှတ်-မ(၂၃)၊ မြို့သစ်(၁)ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး တို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုလျှောက်ထားလွှာနှင့်အတူ Science and Tech International Myanmar University Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဒါရိုက်တာ ဒေါ်ခင်အေးဝင်း အမည်ဖြင့် နှစ် ၆၀ ဂရန်သက်တမ်းရှိ မြေပိုင်ဆိုင်မှုအထောက်အထားနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာကော်မတီမှ ခွင့်ပြုသည့်လုပ်ငန်းလိုင်စင်တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပြီး စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ ကျပ် ၁၃,၅၂၄.၄၅ သန်း (အမေရိကန်ဒေါ်လာ ၄.၀၂ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း တိုင်းဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၁,၀၀၀.၀၀ | - | ၁,၀၀၀.၀၀ |
| စက်ပစ္စည်းကိရိယာ | - | ၀.၁၃ | ၁၈၀.၇၇ |
| ပရိဘောဂပစ္စည်း | - | ၀.၅၆ | ၈၂၃.၁၉ |
| ရုံးသုံးပစ္စည်း | - | ၁.၆၀ | ၂,၁၇၀.၃၉ |
| မော်တော်ကား | - | ၁.၇၂ | ၂,၄၈၈.၆၀ |
| အဆောက်အဦ | ၆,၇၆၁.၅၀ | - | ၆,၇၆၁.၅၀ |
| စုစုပေါင်း | ၇,၇၆၁.၅၀ | ၄.၀၂ | ၁၃,၅၂၄.၄၅ |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း၁၆၇ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | သင်တန်းကာလ | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Certificate | ၆ လ | ၂၅၀ | ၁၈၀,၀၀၀ |
| (ခ) | Diploma | ၁ နှစ် | ၂၀၀ | ၁၈၀,၀၀၀ |
| (ဂ) | Degree for Business | ၃.၅ နှစ် | ၁၂၀ | ၂၀,၄၀၀,၀၀၀ |
| (ဃ) | Degree for Engineering | ၄ နှစ် | ၉၀ | ၂၅,၀၀၀,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၇/၂၀၁၈၊ ဆုံးဖြတ်ချက်အပိုဒ် ၉၃ အရ အင်းစိန်မြို့နယ်၊ ကြို့ကုန်းအရှေ့ရပ်ကွက်ရှိ မြေဧရိယာ ၀.၁၁၄ ဧက၊ ဒေါ်ခင်အေးဝင်းအမည်ပေါက် နှစ် ၆၀ ဂရန်မြေနေရာကို ခွင့်ပြုကြောင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် ရောဝတီဘဏ်တွင် Science and Tech International Myanmar University Co., Ltd. အမည်ဖြင့် ၂၃-၇-၂၀၁၈ ရက်စွဲတွင် ကျပ် ၃၆၈,၁၂၉,၄၈၁.၇၈ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် Science and Tech International Myanmar University Co., Ltd. အမည်ဖြင့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်နေပြီး နေရာသစ် (၂) နေရာတွင် တိုးချဲ့မည်ဖြစ်သဖြင့် အဆိုပြုလွှာကိုထားလွှာ တင်ပြခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Science and Tech International Myanmar University Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကိုထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ-က

| | |
|---|---|
| ဝင်စာအမှတ် | M4-0713 |
| ရက်စွဲ | 18.7.2018 |



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၆.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅(အ)/ ခ- ၀၁၅ / ၂၀၁၈ (၂၂၃)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဖြင့် Science and Tech International Myanmar University Co.,Ltd သည် မြေကွက်အမှတ် (၃၄၄/ဘီ)၊ မြေတိုင်းရပ်ကွက်(၆/ဒီ)၊ အမှတ် ၆၀၅၊ မဟာသုခိတာလမ်းမကြီး၊ ကြို့ကုန်းအရှေ့ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၁၁၄ ဧက နှင့် မြေကွက်အမှတ် (၈၃/က)နှင့် (၈၃/ဃ)၊ အကွက်အမှတ် ၁၀၁၆ ဘီဝီစဲကွင်း၊ မင်းလွင်ကုန်းရပ်ကွက်၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၉.၆၆ ဧကတို့အစား မြေကွက်အမှတ် ၃၄/ခ၊ ၃၄/ဃ၊ ၃၆/၁၊ ၂၆ခ/၂၊ ၃၆/ဃ၊ ဝါးနက်ကုန်းရပ်ကွက်၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃၀.၉၇ဧကအား ပြောင်းလဲ၍ ငှားရမ်းကာ ပညာရေးဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၅.၇.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၉၃)အရ အင်းစိန်မြို့နယ်၊ ကြို့ကုန်းအရှေ့ရပ်ကွက်ရှိ မြေဧရိယာ ၀.၁၁၄ ဧက၊ ဒေါ်ခင်အေးဝင်း အမည်ပေါက်၊ နှစ် ၆၀ ဂရန်မြေနေရာကိုသာခွင့်ပြုကြောင်းနှင့် လှည်းကူးမြို့နယ်ရှိ မြေဧရိယာ ၃၀.၉၇ ဧက၊ ဥယျာဉ်မြေကို အခြားနည်းအသုံးပြုခွင့်ရရှိရေး ဆက်လက်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

D/2018/Cabinet 26(5)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အင်းစိန်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Science and Tech International Myanmar University Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-ခ




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊စီမံကိန်း(MIC) /၂၀၁၈( ၁၀၅၇၁ )
ရက်စွဲ ၊ ၂၀၁၈ခုနှစ်၊ ဇူလိုင်လ( ၁၃ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၄-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ န-ထွေ/ ၂၀၁၈ (၁၄၇)

(၂) ပညာရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၉-၅-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မူဝါဒ(ပုဂ္ဂလိကကျောင်း) ၂၀၁၈ (၆၆၉၄)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ-၀၁၅/ ၂၀၁၈ (၂၀၂)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ-၀၁၆/ ၂၀၁၈ (၂၂၄)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပညာရေးဝန်ဆောင်မှုဆိုင်ရာ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ အဆိုပြုတင်ပြလာပါက တင်ပြရမည့်အချက်များကို အများပြည်သူများအား အသိပေးအကြောင်းကြားမည်ဖြစ်ပါသဖြင့် အကြံပြုပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းအပေါ် ပညာရေးဝန်ကြီးဌာနက ရည်ညွှန်း(၂)ပါစာဖြင့် အကြံပြုပြန်ကြားခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်း(၃)နှင့် ရည်ညွှန်း(၄)ပါစာဖြင့် တင်ပြလာသော အောက်ဖော်ပြပါကုမ္ပဏီများဖြစ်သည့်-

(က) International Language & Business Centre (ILBC)Co.,Ltd.

(ခ) Science and Tech International Myanmar University Co.,Ltd. တို့၏

ပညာရေးဝန်ဆောင်မှုဆိုင်ရာ လုပ်ငန်းများနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

၃။ ပညာရေးဝန်ကြီးဌာနအနေဖြင့် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(ကက) နိုင်ငံသား၊

(ခခ) နိုင်ငံသားနှင့် နိုင်ငံခြားသားဖက်စပ်၊

(ဂဂ) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/ သင်တန်းအမျိုးအစား၊

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့်သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာ ကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိကကျောင်းဆရာများ၏ ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေးအတွေ့အကြုံများနှင့် ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှုရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှုရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်းဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပုဂ္ဂလိကကျောင်း တည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူ အနည်းဆုံး(၁၀)ဦးသဘောတူလက်မှတ်ရေးထိုးထားသည့်

အထောက် အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဥ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ၊

(ကက) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့် ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(ခခ) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(ဂဂ) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေး အစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့်ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှုမရှိစေရေး ကတိဝန်ခံချက်၊

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၃) (က)မှ (ထ) ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန် လိုအပ်ပါသဖြင့် ပညာရေးဝန်ကြီးဌာနသို့ အောက်ဖော်ပြပါပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်ပါရန် ပြန်ကြားအပ်ပါသည်။

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း-၀၆၇ ၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

13/7/2018

ဒေါက်တာမျိုးသိမ်းကြီး
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

- နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန
- ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
- စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
- စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ